ကုမ္ပဏီအမည် - Myanmar CP Livestock Co., Ltd.

လုပ်ငန်း - တိရစ္ဆာန်အစားအစာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း(စက်ရုံအမှတ်-၂)

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၆-၁၁-၂၀၁၃ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန(ပထမအကြိမ်) | ၂၆-၁၁-၂၀၁၃ | ၄-၁၂-၂၀၁၃ | |
| | (ခ) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန(ဒုတိယအကြိမ်) | ၁၃-၁-၂၀၁၄ | ၁၇-၁-၂၀၁၄ | |
| | (ဂ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၈-၁၁-၂၀၁၃ | ၈-၁-၂၀၁၄ | ၄၁ ရက် |
| | (ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန | ၂၈-၁၁-၂၀၁၃ | ၃၀-၁၂-၂၀၁၃ | ၃၂ ရက် |
| | (င) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း (MIC ၂/၂၀၁၄ တွင် ဆွေးနွေးချက်အရထပ်မံ တောင်းခံခြင်း) | ၁၇-၁-၂၀၁၄ | | |
| ၃ | PAT တင်ပြခြင်း | ၂၈-၁၁-၂၀၁၃ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၉-၁၁-၂၀၁၃ | } ၃-၂-၂၀၁၄ | ၆၂ ရက် |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များအကြောင်းကြားခြင်း | ၂-၁၂-၂၀၁၃ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၆၂ ရက် | | |

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်** **Myanmar CP Livestock Co., Ltd.** **မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း (စက်ရုံအမှတ်-၂) အား ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - **Myanmar CP Livestock Co., Ltd.**<br>Mr. Phichet Sivasri (ထိုင်းနိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု (ထိုင်းနိုင်ငံ)<br>- Thana Holding Co., Ltd. (ထိုင်း) ၇၂ %<br>- Charoen Pokphand Enterprise Co., Ltd. (ထိုင်း) ၁၉ %<br>- Aquaculture Promotion Co., Ltd. (ထိုင်း) ၉ % |
| | လုပ်ငန်းအမျိုးအစား | - တိရစ္ဆာန်အစားအစာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း (စက်ရုံအမှတ်-၂) |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၅၂၉(ခ)၊ ပျဉ်းမပင်ကျေးရွာ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ (နွယ်ခွေသိုလှောင်ရုံနှင့် နွယ်ခွေဥစားကြက်ခြံ) |
| | မြေပိုင်ရှင် | - မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၊ မွေးမြူရေး၊ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန။ |
| | မြေအကျယ်အဝန်း | - ၂၇.၃၁ ဧက( ၁၁၀၅၁၉.၇၅ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း(ဆောက်လုပ်ရန်) | - (၂၀၀ပေx၁၅၀ပေ)တစ်လုံး၊ (၁၀၀ပေx ၆၀ပေ)တစ်လုံး၊ (၈၀ပေx ၆၀ပေ) တစ်လုံး၊(၆၀ပေx ၆၀ပေ)တစ်လုံး အပါအဝင် စုစုပေါင်း(၁၅)လုံး |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၄.၅ နှုန်း ဖြင့် တစ်နှစ်လျှင် US$ ၄၉၇၃၃၂<br>- ငှားရမ်းခများကို (၅)နှစ် တစ်ကြိမ် ယခင်နှစ် ငှားရမ်းခနှုန်း၏၁၅%ထက် မပိုစေဘဲ ညှိနှိုင်းသတ်မှတ်မည် ဖြစ်ပါ သည်။ |
| | မြေအသုံးချမှု ပရီမီယံကြေး | - US $ ၀.၅၂၅ သန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် နှစ်ဖက်သဘောတူညီချက် အရ နောက်ထပ်(၁၀)နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US $ ၆၀ သန်း |

US $ (သန်း)

| | ကိုယ်ပိုင်မတည်ငွေရင်း | ချေးငွေ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁.၁၈၉ | ၂၀.၃၃ | ၂၁.၅၁၉ |
| စက်ပစ္စည်း(ပြည်ပဝယ်) | ၁၆.၆၅၁ | ၁၄.၀၄၁ | ၃၀.၆၉၂ |
| အဆောက်အအုံတန်ဖိုး(ပြည်ပဝယ်) | | ၅.၂၈၃ | ၅.၂၈၃ |
| ရုံးသုံးစက်ပစ္စည်းများ(ပြည်တွင်းဝယ်) | | ၀.၃၄၆ | ၀.၃၄၆ |
| လုပ်ငန်းသုံးယာဉ်များ(ပြည်ပဝယ်) | ၂.၁၆၀ | | ၂.၁၆၀ |
| စုစုပေါင်း | ၂၀.၀၀၀ | ၄၀.၀၀၀ | ၆၀.၀၀၀ |

ချေးငွေအပေါ် အတိုးနှုန်းမှာ ၈ % ဖြစ်ပြီး (၆)နှစ်အတွင်း ပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်။

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၂၇၇ ဦး |
| | ပြည်တွင်း | - ၂၇၁ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၉၀,၀၀၀နှင့် အမြင့်ဆုံးလစာ ကျပ်၂,၀၇၂,၅၉၀) |
| | ပြည်ပ | - ၆ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာUS$ ၃၅၀၀ နှင့် အမြင့်ဆုံးလစာUS$ ၄၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | ပြည်တွင်း ပြည်ပ<br>ပထမ ၅ နှစ် ၁၀၀%<br>(၆)နှစ်နှင့်အထက် ၉၅% ၅% |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - ကျပ် ၁၄၂,၉၂၁ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - ကျပ် ၁၂၇,၇၃၈ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - ကျပ် ၁၅,၁၈၃ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၅,၀၆၁ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၆,၇၇၂ သန်း |
| | အရင်းကြေကာလ | - ၈ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၄.၉၄ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၆,၀၀၀ KVA |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက- ၁/န- ၉၁၃/၂၀၁၄ ( ၁၄၃၇ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar CP Livestock Co., Ltd. မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း (စက်ရုံအမှတ်-၂) အား ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံ Thana Holding Co., Ltd. မှ ၇၂%၊ Charoen Pokphand Enterprises Co., Ltd. မှ ၁၉ % နှင့် Aquaculture Promotion Co,. Ltd. မှ ၉ % အစုရှယ်ယာများ ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Myanmar CP Livestock Co., Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မွေးမြူရေး၊ ရေလုပ်ငန်း နှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေး ဝန်ကြီးဌာန၊ မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း ဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်ကျေးရွာ၊ မြေကွက်အမှတ် ၅၂၉(ခ) ရှိ နွယ်ခွေ သိုလှောင်ရုံနှင့် နွယ်ခွေ ဥစားကြက်ခြံမြေဧရိယာ ၂၇.၃၁ ဧကအား ငှားရမ်း၍ တိရစ္ဆာန် အစားအစာများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း (စက်ရုံအမှတ်-၂) ဆောင်ရွက်ခွင့်ပြုပါရန် မွေးမြူရေး၊ ရေလုပ်ငန်း နှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေး ဝန်ကြီးဌာနမှ တစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသည့် မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန နှင့် Myanmar CP Livestock Co., Ltd. တို့ကြား ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ ကုမ္ပဏီ၏အဓိကရှယ်ယာရှင်ဖြစ်သည့် ထိုင်းနိုင်ငံ Thana Holding Co., Ltd. နှင့် Myanmar CP Livestock Co., Ltd. တို့၏ ချေးငွေသဘောတူ စာချုပ် (မူကြမ်း) တို့အား ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၂၇.၃၁ ဧက( ၁၁၀၅၁၉.၇၅ စတုရန်းမီတာ) ဖြစ်ပါသည်။ မြေအသုံးချမှု ပရီမီယံကြေးမှာUS $ ၀.၅၂၅ သန်း နှင့် မြေငှားရမ်းခနှုန်းမှာ ၁ နှစ် တစ်စတုရန်းမီတာလျှင် US$ ၄.၅ နှုန်းဖြင့် ၁ နှစ်လျှင် US$ ၄၉၇၃၃၂ ရရှိမည်ဖြစ်ပါသည်။ ငှားရမ်းခကို ၅ နှစ်တစ်ကြိမ် ယခင်နှစ်ငှားရမ်းခနှုန်း၏၁၅% ထက်မပိုစေဘဲ ပြန်လည်ညှိနှိုင်းမည်ဖြစ်ပါ သည်။ယင်းမြေပေါ်တွင်(၂၀၀ပေx၁၅ပေ) တစ်လုံး၊ (၁၀၀ ပေx ၆၀ ပေ)တစ်လုံး၊ (၈၀ ပေx ၆၀ ပေ) တစ်လုံး၊ (၆၀ ပေx ၆၀ ပေ)တစ်လုံး အပါအဝင် စုစုပေါင်း (၁၅)လုံး ဆောက်လုပ်မည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀နှစ် နှင့် နှစ်ဖက်သဘောတူညီချက်အရ နောက်ထပ် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးမည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၂)နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ US$ ၆၀ သန်း ဖြစ်ပြီး ကိုယ်ပိုင် မတည်ငွေရင်း US$ ၂၀ သန်းနှင့် ချေးငွေ US$ ၄၀ သန်း ပါဝင်ပါသည်။ စက်ပစ္စည်းတန်ဖိုး (ပြည်ပဝယ်) US$ ၃၀.၆၉၂ သန်း၊ အဆောက်အအုံတန်ဖိုး (ပြည်ပဝယ်) US$ ၅.၂၈၃ သန်း၊ ရုံးသုံးစက်ပစ္စည်းတန်ဖိုး (ပြည်တွင်းဝယ်)

US$ ၀.၃၄၆ သန်း၊ လုပ်ငန်းသုံးယာဉ်(ပြည်ပဝယ်) US$ ၂.၁၆ သန်း၊ ငွေသား US$ ၂၁.၅၁၉ သန်း ဖြစ်ပါသည်။ ချေးငွေပေါ်အတိုးနှုန်းမှာ ၈% ဖြစ်ပြီး ၆ နှစ် အတွင်း ပြန်လည် ပေးဆပ်မည် ဖြစ်ပါသည်။ Myanmar CP Livestock Co., Ltd. သည်မြန်မာနိုင်ငံတွင် အခြားလုပ်ငန်းများကို ဆောင်ရွက်လျှက်ရှိပြီး ဘဏ္ဍာရေး အနေအထားအရ အစုရှယ်ယာရှင်ထံမှ ချေးငွေရယူခြင်းဖြစ်ပါကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်း ဝန်ထမ်း ၂၇၁ ဦး နှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်း ၆ ဦး စုစုပေါင်း ၂၇၇ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ်၂,၀၇၂,၅၉၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၃၅၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၄၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ပြီး ပထမ ၅ နှစ်တွင် ပြည်တွင်း၌ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ၆ နှစ်မြောက်မှ စတင်၍ ပြည်တွင်း၌ ၉၅% နှင့် ပြည်ပသို့ ၅% တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ ကုမ္ပဏီ၏နှစ်စဉ် ပုံမှန်ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်း (ဆဌမနှစ်) မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ပြည်တွင်းရောင်းချခြင်း | | ပြည်ပသို့ တင်ပို့ရောင်းချခြင်း | |
|---|---|---|---|---|---|
| | | အရေအတွက် (Ton) | ရောင်းဈေးနှုန်း (Kyat/Ton) | အရေအတွက် (Ton) | ရောင်းဈေးနှုန်း (US$/Ton) |
| (က) | Broiler Feed | ၁၃၈,၃၃၇.၆၃ | ၅၇၉,၅၉၄ | ၇,၂၈၀.၉၃ | ၅၈၀ |
| (ခ) | Layer Feed | ၇၆,၈၅၄.၂၄ | ၄၅၄,၉၂၉ | ၄.၀၄၄.၉၆ | ၄၅၅ |
| (ဂ) | Breeder Feed | ၂၅,၆၁၈.၀၈ | ၆၈၄,၅၅၂ | ၁,၃၄၈.၃၂ | ၆၈၅ |
| (ဃ) | Fattening Feed | ၁၀,၂၄၇.၂၃ | ၇၃၁,၁၈၂ | ၅၃၉.၃၃ | ၇၃၁ |
| (င) | Other Feed | ၅,၁၂၃.၆၂ | ၃၉၇,၃၅၈ | ၂၆၉.၆၆ | ၃၉၇ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဌမနှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ် ( သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၄၂,၉၂၁ |
| (ခ) | အသုံးစရိတ် | ၁၂၇,၇၃၈ |
| (ဂ) | အသားတင်အမြတ် | ၁၅,၁၈၃ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၅,၀၆၁ သန်း ဖြစ်ပြီး ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၆,၇၇၂ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလ မှာ ၈ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၄.၉၄ % ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား လာပါသည်-

(က) ရန်ကုန်တိုင်း **ဒေသကြီး အစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သား အင်အား (၂၇၁)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး

တိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန် အတွက် မြေနေရာသီးသန့် ငှားရမ်းဆောင်ရွက်ခြင်းဖြစ်ပြီး တစ်နှစ်အတွက် တစ်စတုရန်း မီတာလျှင် ၄၀၅ US$ နှုန်းဖြင့် နှစ် (၅၀) + (၁၀) နှစ် + (၁၀) နှစ် စုစုပေါင်း နှစ် (၇၀) ငှားရမ်းသုံးစွဲခြင်း အပေါ် ဒေသခံများက လူမှုရေး၊စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုမရှိအောင် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း၊ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်(၁/၂၀၁၄)(၂-၁-၂၀၁၄)ဆုံးဖြတ်ချက်အပိုဒ် (၄၃) အရ Myanmar CP Livestock Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ** လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် အစီအစဉ်များ ရေးဆွဲပြီး လိုက်နာ ဆောင်ရွက်ရန်၊ အဆိုပြုစီမံကိန်း လုပ်ငန်းကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု မရှိစေရေးနှင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) လုပ်ငန်းကို တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းဖြင့် ဆောင်ရွက်ရန်၊ အဆိုပါ ဆန်းစစ် တွေ့ရှိချက်များကို အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု မဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်အတွက် ဆောင်ရွက်မည့် အစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင် ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan- EMP) ရေးဆွဲ တင်ပြရန်နှင့် အစီအစဉ်အတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်၊ လုပ်ငန်းခွင် လေကောင်းလေသန့်ရရှိရေး၊ ပတ်ဝန်းကျင် သန့်ရှင်း ကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ် ထားရှိရန်နှင့် စက်ရုံ ပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များ နှင့် ပန်းအလှပင်များ စိုက်ပျိုး ထားရှိရန်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သက်ဆိုင်ရာ ဝန်ကြီးဌာန အသီးသီးတို့မှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်း နှင့် ညွှန်ကြားချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်သွားရန် သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **ကုမ္ပဏီမှ Environmental Management Standards ISO 14001:2004 (IEC 14001-2547) ဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် ဆောင်ရွက်မည့် အစီအစဉ်တို့ကို တင်ပြထားပြီး နှင့် EMP Report အား တတိယ အဖွဲ့အစည်း ဖြစ်သည့် Myanmar Livestock Development Research Team (MLRD) နှင့် ရေးဆွဲလျက် ရှိကြောင်း တင်ပြထားပါသည်။** **နောက်ဆက်တွဲ-ခ**

(ဂ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ** တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်၊ စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်၊စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း၊ အဆောက်အဦပိုင်းအတွက် အဓိက ဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းခြင်းမရှိသည်ကို တွေ့ရှိရပါကြောင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေကြေးအထောက်အထားအဖြစ် Myanmar CP Livestock Co., Ltd. ၏ ၂၀၁၃ ခုနှစ် စာရင်းစစ် အစီရင်ခံစာ နှင့် Myanmar CP Livestock Co., Ltd.၏ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်မိတ္တူ တို့ကို တင်ပြထားပါသည်။

၁၂။ မီးဘေးကြိုတင်ကာကွယ်ရေးအတွက် အရေးပေါ်လှေကားများ၊ အရေးပေါ်ဝင်ထွက်ပေါက်များ စီစဉ်ထားမည် ဖြစ်ပါကြောင်း၊ အရေးပေါ်မီးငြိမ်းသက်မှုစနစ်များနှင့် Emergency Audio/ Visual Advisory System တို့ဖြင့် ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ တံခါးပေါက်နှင့် ပြူတင်းပေါက်များကိုလည်း လုံလောက်စွာ ဖောက်လုပ်ထားပြီး အဆောက်အဦးအတွင်း မီးသတ်ကား ဝင်ရောက်နိုင်အောင် စီစဉ် ဆောင်ရွက်ထားမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ အလုပ်သမား သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာဝပြောရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်၊ ကျန်းမာရေး စောင့်ရှောက်မှုအစီအစဉ် တို့ကို တင်ပြထားပြီး လူမှုဘဝ သာယာ ဝပြောရေး(Corporate Social Responsibility-CSR)အတွက် နှစ်စဉ် အသားတင် အမြတ်၏၁ % ထားရှိ ဆောင်ရွက်ပေးမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ စက်ရုံ၏ တည်နေရာပြ မြေပုံ၊ လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ Process Flow Diagram ၊ Waste Water Treatment ၊ Good Manfacturing Practices တို့ကို တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြ ထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁/၂၀၁၃ ဖြင့် ထုတ်ပြန် ထားသည့် အခြားခွင့်ပြုချက်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်းတွင် တိရစ္ဆာန် မွေးမြူဖြည့်စွက် အစားအစာများ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း Good Manufacturing Practice (GMP) ဖြင့် ဆောင်ရွက်နိုင်သူ အမျိုးအစားစာရင်းတွင် ပါဝင်ပါသည်။

၁၆။ Myanmar CP Livestock Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံ မြို့နယ်၊ ပျဉ်းမပင်နှင့် လှည်းကူးမြို့နယ်၊ ငါးဆူတောင်တို့တွင် တိရစ္ဆာန်အစာစပ်စက်ရုံ တည်ဆောက်ခြင်း နှင့် ကြက်သားပေါက်များ မွေးမြူခြင်းလုပ်ငန်း ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၃၈/၉၆ (၁၈-၁၂-၉၆) ဖြင့် လုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။ ယင်းကုမ္ပဏီသည် နိုင်ငံတော်သို့ ဝင်ငွေခွန်ပေးဆောင်မှုတွင် အဆင့် ၃ နှင့် ကုန်သွယ်လုပ်ငန်းခွန် ပေးဆောင်မှုတွင် အဆင့် ၄ စာရင်းတွင် ပါဝင်ပါသည်။ ၁၉၉၈ မှ ၂၀၁၃ ခုနှစ်အထိနိုင်ငံတော်သို့ ဝင်ငွေခွန်ကျပ်၂၉၃၆၂သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန်ကျပ်၂၄၃၄၇သန်း ပေးဆောင်ခဲ့ပါသည်။

၁၇။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၈-၁၁-၂၀၁၃ နေ့တွင်ကျင်းပပြုလုပ်သော အစည်းအဝေး (၃၁/၂၀၁၃) သို့ တင်ပြခဲ့ပါသည်။

၁၈။ ထိုင်းနိုင်ငံ Thana Holding Co., Ltd. မှ ၇၂% ၊ Charoen Pokphand Enterprises Co., Ltd. မှ ၁၉ % နှင့် Aquaculture Promotion Co,. Ltd. ၉ % အစုရှယ်ယာများ ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Myanmar CP Livestock Co., Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့်မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေးဝန်ကြီးဌာန၊ မွေးမြူရေးနှင့် ဆေးကုသရေး ဦးစီး ဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်ကျေးရွာရှိ နွယ်ခွေသိုလှောင်ရုံ နှင့် နွယ်ခွေ ဥစား ကြက်ခြံမြေဧရိယာ ၂၇.၃၁ ဧကအားငှားရမ်း၍ တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း (စက်ရုံအမှတ်-၂) ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြ လာခြင်း အပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Myanmar CP Livestock Co., Ltd. | (၁) Mr. Nutthakrit Sivasri<br>Chairman/Director Thailand<br>Thai Passport Number-M 915172 | 8 Soi Patthanakarn 65 Yark 2, Pravet, Bangkok 10250, Thailand. |
| | | (၂) Mr. Phichet Sivasri<br>Managing Director<br>Thailand<br>Thai Passport Number -B 949968 | 8 Soi Patthanakarn 65 Yark 2, Pravet, Bangkok 10250, Thailand. |
| | | (၃) Mr. Siripong Aroonratana<br>Deputy Managing Director<br>Thailand<br>Thai Passport Number -L 822960 | 48/46, Panyalndra P6 ,Panyalndra road, Bangchan Klongsamwa, Bangkok 10510, Thailand. |
| | | (၄) Mr. Montri Suwanposri<br>Director<br>Thailand<br>Thai Passport Number -Y 964045 | 69/57 Moo. 6 Jomthong, Bangkok 10510, Thailand. |
| | | (၅) Mr. Siripong Aroonratana<br>Director<br>Thailand<br>Thai Passport Number -Y 811136 | 69/94 Moo 10 Wat Chan Muang Pitsanulok 65000, Thailand. |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉- ၅၀၉၄၂၆၅ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဦးကျော်မိုး |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း (စက်ရုံအမှတ်-၂) |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |